ကုမ္ပဏီအမည် - Andaman Alliance Healthcare Limited

လုပ်ငန်း - Private Hospital Services(ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်း)

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကျန်းမာရေးဝန်ကြီးဌာနမှ အဆိုပြုလွှာတင်ပြခြင်း။ | ၂၀-၁၀-၂၀၁၅ | | |
| ၂ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈/၂၀၁၅)သို့ တင်ပြခြင်း | ၂၃-၁၀-၂၀၁၅ | | ယာယီခွင့်ပြုမိန့်ထုတ်ပေးရန်ဆုံးဖြတ်ခဲ့ပါသည် |
| ၃ | ကုမ္ပဏီသို့ ယာယီခွင့်ပြုမိန့်ထုတ်ပေးခြင်း | - | ၁၀-၁၂-၂၀၁၅ | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၄၀/၂၀၁၅) သို့တင်ပြခြင်း။ | ၂-၁၁-၂၀၁၅ | | |
| ၅ | အဆိုပြုချက်လက်ခံကြောင်းနှင့် ဆုံးဖြတ်ချက်အားပြန်ကြားခြင်း။ | ၁၁-၁၁-၂၀၁၅ | | |
| ၆ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၂-၁၁-၂၀၁၅ | ၃-၁၂-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၂-၁၁-၂၀၁၅ | ၂-၁၂-၂၀၁၅ | |
| | (ဂ) ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ နှင့် HIC | ၁၆-၁၁-၂၀၁၅ | ၂၀-၁၁-၂၀၁၅ | ကြာမြင့်ချိန် ( ၄၂)ရက် |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၆-၁၁-၂၀၁၅ | ၁၀-၁၂-၂၀၁၅ | |
| | (င) ကျန်းမာရေးဝန်ကြီးဌာန | ၁၆-၁၁-၂၀၁၅ | ၂၄-၁၂-၂၀၁၅ | |
| ၇ | **မြေအသုံးပြုခွင့်တင်ပြခြင်း** ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၂၆/၂၀၁၅)(၁၇-၁၂-၂၀၁၅) ရက်စွဲဖြင့် ခွင့်ပြုပြီးဖြစ်ကြောင်းကျန်းမာရေး ဝန်ကြီးဌာနမှ တင်ပြထားပါသည်။ | - | - | |
| ၈ | ကုမ္ပဏီမှပြင်ဆင်ပြီး အဆိုပြုလွှာ ပြန်လည်တင်ပြခြင်း | ၂၈-၁၂-၂၀၁၅ | | |
| ၉ | ကုမ္ပဏီမှပြင်ဆင်ပြီး အဆိုပြုလွှာများ ပေးပို့ခြင်း | ၅-၁-၂၀၁၆ | | |
| | **စုစုပေါင်း ကြာမြင့်ရက် ( ၆၈ )ရက်** | | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Andaman Alliance Healthcare Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်း<br>(Private Hospital Services) |
| တည်နေရာ | - | ကျွန်းမာရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀F)၊ မြေကွက်အမှတ်(၁၀B) မြေဧရိယာ (၄.၃)ဧက တွင် တည်ဆောက်၊ လည်ပတ်နှင့်လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်ဖြင့် ပုဂ္ဂလိက ဆေးရုံတည်ဆောက်၍ ဆေးရုံဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၈၇.၁၀၃ သန်း |
| လုပ်ငန်းသက်တမ်း | - | (၅၀)နှစ် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး |
| အရင်းကြေကာလ | - | ၁၀ နှစ် |
| IRR | - | ၁၁.၇၃ % |

အထက်ပါ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်

| စဉ် | အကြောင်းအရာ | Cost<br>ကျပ် (သန်း) | Benefit<br>ကျပ် (သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ၂.၁၆ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အကောက်ခွန်ကင်းလွတ်ခွင့် | ၁,၉၉၈.၈၂ | |
| ၄ | ဝင်ငွေခွန် | ၆,၀၂၈.၈၆ | ၆,၅၁၂.၆၄ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ/လောင်စာဆီ သုံးစွဲခ | | ၈၇.၈၂ |
| ၆ | ရေသုံးစွဲခ | | ၂၄၄.၅၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် သိန်း (၂၀)ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၃၅၀) ဦး |
| ၈ | မြေငှားရမ်းခရငွေ | | ၃,၄၅၆.၀၀ |
| ၉ | CSR (၂ %) | | ၄၈၂.၁၃ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၃၁၄ ဦး၊ ပြည်ပ ၃၆ ဦး ပြည်တွင်း လုပ်သား (၃၁၄) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုနှင့်အထောက်အကူပြုစေပါသည်။ |
| | စုစုပေါင်း | ၈,၀၂၉.၈၄ | ၁၂၃၆၇.၀၂ |
| | | ၁း၄ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Andaman Alliance Healthcare Limited တည်ထောင်၍ Park Way Yangon Hospital အမည်ဖြင့် Private Hospital Services လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကျန်းမာရေးဝန်ကြီးဌာနမှတဆင့် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Andaman Alliance Healthcare Limited<br>- Liaw Yit Ming (မလေးရှား) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- AMMK Medicare Company Limited (မြန်မာနိုင်ငံ) ၂၀.၅%<br>Global Star Company Limited (မြန်မာနိုင်ငံ) ၁၆%<br>Macondray Holdings Pte. Ltd. (စင်္ကာပူနိုင်ငံ) ၁၀.၅%<br>Parkway Healthcare Indo- China Pte. Ltd. (စင်္ကာပူနိုင်ငံ) ၅၂% |
| | လုပ်ငန်းအမျိုးအစား | - ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်း<br>( private hospital Services) |
| ၂။ | လုပ်ငန်းတည်နေရာ | - ကျန်းမာရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ မြေတိုင်းရပ်ကွက် အမှတ်(၂၀$^{F}$)၊ မြေကွက် အမှတ် (၁၀$^{B}$)၊ မြေဧရိယာ (၄.၃)ဧကတွင် တည်ဆောက်လည်ပတ်နှင့်လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်ဖြင့် ပထမအဆင့် တွင် ကုတင်၁၀၀ဆံ့နှင့်စတုတ္ထနှစ်မြောက်တွင်စတင်မည့် ဒုတိယအဆင့် တွင်ကုတင်၂၅၀ဆံ့ ပုဂ္ဂလိကဆေးရုံတည်ဆောက်၍ ဆေးရုံဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။ |
| | မြေအကျယ်အဝန်း | - ၄.၃ ဧက |
| | မြေပိုင်ရှင် | - ကျန်းမာရေးဝန်ကြီးဌာန |
| ၃။ | BOT စာချုပ်(မူကြမ်း)ပါမြေငှားရမ်းခနှင့် ( မြေအသုံးချမှု ပရီမီယံကြေး (Land use premium ) | -မြေငှားရမ်းကာလမှာ ဖွင့်လှစ်သည့်နေ့ရက် သို့မဟုတ် ကင်းလွတ်ခွင့်ပြုကာလ ပြီးဆုံးပြီးသည့် ကပ်လျက်နေ့ရက်တို့အနက် အစောဆုံးနေ့ရက် (ကနဦးငှားရမ်းကာလ)မှ စတင်၍(၅၀)နှစ် ဖြစ်ပြီး ၁၀ နှစ် ၂ ကြိမ် သက်တမ်း တိုးမြှင့်မည်ဖြစ်ပါသည်။<br>-မြေအသုံးချမှုပရီမီယံကြေး မြေ(၄.၃)ဧက အတွက် (၁) ဧကလျှင် **US$ ၂,၀၀၀,၀၀၀** နှုန်း<br>-ပထမအကြိမ် ၃၀% ကိုစာချုပ်ချုပ်ဆိုသည့် နေ့ရက်မှ (၃)လ<br>-ဒုတိယအကြိမ် ၃၀% ကို စာချုပ်ချုပ်ဆိုပြီး (၆)လ<br>-တတိယအကြိမ် ၄၀%ကို စာချုပ်ချုပ်ဆိုပြီး (၄၂)လ<br>-ကနဦး ပထမ (၅)နှစ် နှစ်စဉ်ငှားရမ်းခမှာ စုစုပေါင်း ကြမ်းခင်းဧရိယာ၏ ၇၅% အပေါ် တစ်စတုရန်းမီတာ US$ ၁၈<br>-(၅)နှစ် တာကာလကုန်ဆုံးချိန်တိုင်းတွင် ယခင်ပေးချေရသည့် နှစ်စဉ်ငှားရမ်းခ တန်းဖိုး၏ ၅% ထပ်မပိုစေဘဲ ကာလပေါက်ဈေး မြေတန်ဖိုးအတိုင်း |

| | | |
|---|---|---|
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး |
| ၅။ | တည်ဆောက်ရေးကာလ | - ၄ နှစ် |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၈၇.၁၀၃ သန်း |
| | ထည့်ဝင်မည့် ရင်းနှီးမြှုပ်နှံမှုပမာဏ | - ( US$ သန်း) |
| | | - **မြန်မာ** / **နိုင်ငံခြား** / **စုစုပေါင်း** |
| | အဆောက်အဦး | ၁၅.၁၈၈ / ၂၅.၃၁၃ / ၄၀.၅၀၁ |
| | ဆေးရုံသုံးစက်ကိရိယာပစ္စည်း (ပြည်ပဝယ်) | ၆.၃၂၄ / ၁၀.၅၄၁ / ၁၆.၈၆၅ |
| | Land use premium | ၃.၃၂၂ / ၅.၅၃၆ / ၈.၈၅၈ |
| | Furniture and Fittings | ၀.၆၇၅ / ၁.၁၂၅ / ၁.၈၀၀ |
| | Pre-operating Cost | ၀.၇၅၁ / ၁.၂၅၂ / ၂.၀၀၃ |
| | အခြား | ၀.၀၀၄ / ၀.၀၀၆ / ၀.၀၁၀ |
| | Facilities for expending from 100 to 250 beds out of Cash flow(Machine and furniture) | ၆.၃၉၉ / ၁၀.၆၆၇ / ၁၇.၀၆၆ |
| | **စုစုပေါင်း** | ၃၂.၆၆၃ / ၅၄.၄၄၀ / ၈၇.၁၀၃ |
| ၇။ | **ဝန်ထမ်းအင်အား** | - **၃၅၀ ဦး** |
| | ပြည်တွင်း | - ၃၁၄ ဦး (အနိမ့်ဆုံးဝန်ထမ်းလစာမှာ US$ ၂၅၀ )<br>(အမြင့်ဆုံးဝန်ထမ်းလစာမှာ US$ ၇,၀၀၀) |
| | ပြည်ပ | - ၃၆ ဦး (အနိမ့်ဆုံးလစာမှာ US$ ၃၀၀ )<br>(အမြင့်ဆုံးလစာမှာ US$ ၇,၀၀၀ ) |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ် ) | - US$ ၇၁.၄၈၃ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် | - US$ ၆၄.၄၀၇ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - US$ ၇.၀၇၆ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - US$ ၂.၃၅၈ သန်း |
| ၁၀။ | အရင်းကြေကာလ | - ၁၀ နှစ် |
| ၁၁။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၀.၇၃ % |
| ၁၂။ | လျှပ်စစ်ဓါတ်အား သုံးစွဲမှု (နှစ်စဉ်) | - ၂,၄၀၀,၀၀၀ kWh<br>(တည်ဆောက်ရေးကာလ ပြီးစီးသည့်နှစ်မှ စတင်သုံးစွဲမည်) |
| ၁၃။ | **ကုတင် (၂၅၀)ဆံ့ ဆေးရုံ၏ ဆဋ္ဌမနှစ်ဝန်ဆောင် နိုင်မည့် လူနာအရေအတွက်နှင့်နှုန်းထား** | Number of outpatients ၁၈၄,၈၀၀<br>OPD charge per visit US$ ၁၀၇<br>Number of inpatients ၂၀,၃၂၈<br>Inpatient Bill Size US$ ၂,၅၄၃ |

| | | |
|---|---|---|
| ၁၄။ | ပြည်ပမှအခွန်အကောက်ကင်းလွတ်ခွင့် တောင်းခံခြင်း<br>ဆေးရုံသုံးစက်ကိရိယာပစ္စည်းများ | - US$ ၃၁.၂၃၂ သန်း တန်ဘိုးရှိ ဆေးရုံသုံးစက်ကိရိယာပစ္စည်းများ ပြည်ပမှ အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းမည်ဖြစ်ပြီး ပူးတွဲ-၁ ဖြင့် တင်ပြအပ်ပါသည်။ |
| ၁၅။ | CSR | -CSR လုပ်ငန်းများအတွက် နှစ်စဉ်အသား တင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၆ | **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** | - မီးဘေးကြိုတင်ကာကွယ်ရေးအတွက် မီးဘေးကာကွယ်ရေးပစ္စည်းများ ထားရှိမည်ဖြစ်ကြောင်းနှင့် ဝန်ထမ်းများအား လိုက်နာဆောင်ရွက်ရန် လေ့ကျင့်ပေးထားကြောင်း၊ မီးဘေးလုံခြုံရေး စီမံချက်အားတင်ပြထား ပါသည်။ |
| ၁၇။ | **အခြား** | - ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၃ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးစ Andaman Alliance Healthcare Limitedသို့ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက် နေ့စွဲဖြင့် ယာယီ ခွင့်ပြုမိန့်အမှတ် ၁၀၄၅/၂၀၁၅ (ယာယီ) အား ထုတ်ပေးထားပါသည်။<br>- Car parking တွင် ကားစီးရေ ၁၆၇ စီး ဆံ့မည်ဖြစ်ကြောင်း တင်ပြထား ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရကက - ၅(အ)/၀၁၂/၂၀၁၆ (၀၁၅)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Andaman Alliance Healthcare Limited တည်ထောင်၍ Park Way Yangon Hospital အမည်ဖြင့် Private Hospital Services လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် ကျန်းမာရေးဝန်ကြီးဌာနမှတဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ AMMK Medicare Company Limited မှ ၂၁.၅ %၊ မြန်မာနိုင်ငံ Global Star Company Limited မှ ၁၆%၊ စင်္ကာပူနိုင်ငံ Macondray Holdings Pte. Ltd.မှ ၁၀.၅% နှင့် စင်္ကာပူနိုင်ငံ Parkway Healthcare Indo - China Pte. Ltd.မှ ၅၂% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Andaman Alliance Healthcare Limited တည်ထောင်ကာ ကျန်းမာရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ မြေတိုင်းရပ်ကွက် အမှတ်(၂၀$^{F}$)၊ မြေကွက် အမှတ် (၁၀$^{B}$)၊ မြေအကျယ်အဝန်း (၁၀.၄၄၆)ဧက အနက် မြေအတိုင်းအတာ (၄.၃)ဧက ပေါ်တွင် Parkway Yangon Hospital အမည်ဖြင့် ဆေးရုံတည်ဆောက်ပြီး ကျန်းမာရေးဝန်ကြီးဌာနနှင့် Andaman Alliance Healthcare Limited တို့မှ တည်ဆောက်၊ လည်ပတ်၊ လွှဲပြောင်းခြင်း ဆိုင်ရာ သဘောတူစာချုပ်ချုပ်ဆို၍ Private Hospital Services လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကျန်းမာရေးဝန်ကြီးဌာနမှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်၊ ဖက်စပ်ကုမ္ပဏီ Andaman Alliance Healthcare Limitedနှင့် ကျန်းမာရေးဝန်ကြီးဌာနတို့အကြားချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှားစာချုပ် (မူကြမ်း)၊ AMMK Medicare Company Limited၊ Global Star Company Limited၊ Macondray Holdings Pte. Ltd.နှင့် Parkway Health care Indo - China Pte. Ltd.အကြားချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း)တို့ကို တင်ပြထားပါသည်။

၃။ ကျန်းမာရေးဝန်ကြီးဌာနနှင့် Andaman Alliance Healthcare Limited တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် တည်ဆောက်၊ လည်ပတ်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူ စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေငှားရမ်းကာလမှာ ဖွင့်လှစ်သည့် နေ့ရက် သို့မဟုတ် ကင်းလွတ်ခွင့်ပြုကာလပြီးဆုံးပြီးသည့် ကပ်လျက်နေ့ရက်တို့အနက် အစောဆုံးနေ့ရက် (ကနဦးငှားရမ်းကာလ)မှ စတင်၍(၅၀)နှစ်ဖြစ်ပြီး၁၀နှစ်၂ကြိမ်သက်တမ်းတိုးမြှင့်မည်ဖြစ်ပါသည်။

(ခ) Andaman Alliance Healthcare Limited မှ (Land use premium )မြေအသုံးချမှုပရီမီယံကြေး အနေဖြင့် အငှားချထားသည့်မြေ(၄.၃)ဧက အတွက် (၁ဧက)လျှင် US$၂,၀၀၀,၀၀၀နှုန်း မြှောက်ခြင်းနှင့်ညီမျှသည့် ပမာဏအား ပေးဆောင်ရမည်ဖြစ်ပြီး၊ ၃၀%ကို စာချုပ်ချုပ်ဆိုသည့်နေ့ရက်မှ (၃)လထက်နောက်ကျခြင်းမရှိဘဲ ပေးချေရန်၊ နောက်ထပ် ၃၀% ကို စာချုပ်ချုပ်ဆိုပြီး (၆)လထက်နောက်ကျခြင်း မရှိဘဲ ပေးချေရန်၊ ကျန် ၄၀% ကို စာချုပ်ချုပ်ဆိုပြီး(၄၂)လထက်နောက်ကျခြင်း မရှိဘဲ ပေးချေရန် ဖြစ်သည်။

(ဂ) မြေဌားရမ်းခအနေဖြင့် ကနဦး ပထမ (၅)နှစ်အတွက် နှစ်စဉ် ဌားရမ်းခမှာ စုစုပေါင်း ကြမ်းခင်းဧရိယာ၏ ၇၅% အပေါ် တစ်စတုရန်းမီတာလျှင် US$ ၁၈ နှင့်ညီမျှသည့် ပမာဏပေးဆောင်ရမည်ဖြစ်ပြီး ငါးနှစ်တာကာလ ကုန်ဆုံးချိန်တိုင်းတွင် ယခင်ပေးချေရသည့် နှစ်စဉ် ငှားရမ်းခ တန်းဖိုး၏ ၅% ထပ်မပိုစေဘဲ စာချုပ်ဝင်များက သဘောတူညီခန့်အပ်သော နိုင်ငံတကာတစ်သီးပုဂ္ဂလရာဖြတ်ကျွမ်းကျင် ပညာရှင်က သတ်မှတ်ပေးသော ကာလပေါက်ဈေး မြေတန်ဖိုးအတိုင်း ပြန်လည်ပြင်ဆင်မည် ဖြစ်သည်။

(ဃ) အငှားချထားခံရသည့် ကုမ္ပဏီအနေဖြင့် သဘောတူစာချုပ်ရပ်စဲ(သို့မဟုတ်) ကုန်ဆုံးမှု အကျိုးသက်ရောက်သည့် နေ့မှစ၍ သုံးလအတွင်း မည်သည့်ထည့်တွက်စဉ်းစားမှုမဆို မရှိစေရဘဲ အဌားချထားသည့်မြေကို ရှိရင်းစွဲ အတိုင်း အဌားချထားသူထံ ပြန်လည်လွှဲပြောင်းပေးရမည် ဖြစ်သည်။

၄။ လုပ်ငန်း၏သက်တမ်းကာလမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၄နှစ် ကြာမြင့်မည် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၈၇.၁၀၃သန်း ဖြစ်ပါသည်။ ဆေးရုံသုံး စက်ကိရိယာပစ္စည်းများ တန်ဘိုး အမေရိကန် ဒေါ်လာ ၃၁.၂၃၂သန်း ကို ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုတွင် ထည့်ဝင်မှု အမျိုးအစားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

( US$ သန်း)

| ထည့်ဝင်မည့် ရင်းနှီးမြှုပ်နှံမှုပမာဏ | မြန်မာ | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| အဆောက်အဦး | ၁၅.၁၈၈ | ၂၅.၃၁၃ | ၄၀.၅၀၁ |
| ဆေးရုံသုံးစက်ကိရိယာပစ္စည်း (ပြည်ပဝယ်) | ၆.၃၂၄ | ၁၀.၅၄၁ | ၁၆.၈၆၅ |
| Land use premium | ၃.၃၂၂ | ၅.၅၃၆ | ၈.၈၅၈ |
| Furniture and Fittings | ၀.၆၇၅ | ၁.၁၂၅ | ၁.၈၀၀ |
| Pre-operating Cost | ၀.၇၅၁ | ၁.၂၅၂ | ၂.၀၀၃ |
| အခြား | ၀.၀၀၄ | ၀.၀၀၆ | ၀.၀၁၀ |
| Facilities for expending from 100 to 250 beds out of Cash flow(Machine and furniture) | ၆.၃၉၉ | ၁၀.၆၆၇ | ၁၇.၀၆၆ |
| စုစုပေါင်း | ၃၂.၆၆၃ | ၅၄.၄၄၀ | ၈၇.၁၀၃ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၃၁၄)ဦးနှင့် ပြည်ပမှ ဝန်ထမ်း(၃၆)ဦး စုစုပေါင်း (၃၅၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ အမေရိကန်ဒေါ်လာ ၂၅၀နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၇,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃၀၀နှင့် အမြင့်ဆုံးလစာမှာ အမေရိကန် ဒေါ်လာ ၇,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှာ ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှု လုပ်ငန်းဖြစ်၍ အရေးပေါ်ဌာန၊ အထူး ကြပ်မတ် ကုသဆောင် (ICU, HDU, NICA, Anaesthetic), ဓါတ်မှန်ဌာန၊ ကျန်းမာရေးဆေးစစ်ဌာန၊ ပြန်လည်ထူထောင်ရေးဌာနနှင့် အောက်ဖော်ပြပါ ရောဂါများ၏ ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက် ပေးမည် ဖြစ်ပါသည်-

(က) အထွေထွေခွဲစိတ်ကုသရေးအထူးကု

(ခ) မီးယပ်နှင့်သားဖွားအထူးကု

(ဂ) ကင်ဆာအထူးကု

(ဃ) နှလုံးရောဂါအထူးကု

(င) အရိုးအကြောရောဂါအထူးကု

(စ) နားနှင့်လည်ချောင်းအထူးကု

၈။ အဆိုပြုလုပ်ငန်း ကုတင်(၂၅၀)ဆံ့ ဆေးရုံ၏ဆဋ္ဌမနှစ် ဝန်ဆောင်နိုင်မည့် လူနာအရေ အတွက်နှင့် နှုန်းထားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်

| | | | |
|---|---|---|---|
| Number of outpatients | - | | ၁၈၄,၈၀၀ |
| OPD charge per visit | - | US$ | ၁၀၇ |
| Number of inpatients | - | | ၂၀,၃၂၈ |
| Inpatient Bill Size | - | US$ | ၂,၅၄၃ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆ နှစ်မြောက်တွင် ရရှိမည့်ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်ဒေါ်လာ(သန်း)**

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၇၁.၄၈၃ |
| (ခ) | အသုံးစရိတ် | ၆၄.၄၀၇ |
| (ဂ) | အသားတင်အမြတ် | ၇.၀၇၆ |

၁၀။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် ၆နှစ် မြောက်တွင်ရရှိမည့် အကျိုး အမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၂.၃၈၅ သန်း ရရှိမည်ဖြစ်ပါသည်။ အရင်းကြေ ကာလမှာ ၁၀နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၁.၇၃% ဖြစ်ပါ သည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများနှင့် အဖွဲ့အစည်းများသို့ သဘောထား တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါ သည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက အောက်ပါအတိုင်း အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း-

(၁)ပထမနှစ်- ပြည်ပဝန်ထမ်း(၂၈)ဦး၊ ပြည်တွင်းဝန်ထမ်း(၄၃၈)ဦး၊ စုစုပေါင်း (၄၆၆)ဦး

(၂)ဒုတိယနှစ်နှင့်တတိယနှစ်-ပြည်ပဝန်ထမ်း(၃၃)ဦး၊ ပြည်တွင်းဝန်ထမ်း(၅၇၇)ဦး၊ စုစုပေါင်း(၆၁၀)ဦး

(၃)စတုတ္ထနှစ်မှဆဌမနှစ်အထိ- ပြည်ပဝန်ထမ်း(၆၂)ဦး၊ ပြည်တွင်းဝန်ထမ်း(၁၁၄၄)ဦး၊ စုစုပေါင်း(၁၂၀၆)ဦး

(၄)သတ္တမနှစ်မှနောက်ပိုင်း- ပြည်ပဝန်ထမ်း(၆၇)ဦး၊ ပြည်တွင်းဝန်ထမ်း(၁၂၂၂)ဦး၊ စုစုပေါင်း(၁၂၈၉)ဦး

(၅)တည်ဆောက်ဆဲကာလ(၃)နှစ်အတွင်း လုပ်သားအင်အား(၂၀၀)ဦး ဝန်းကျင်ဖြင့် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ကျန်းမာရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀-F)၊ မြေကွက် အမှတ် (၁၀)၊ မြေအမျိုးအစား- ပြည်သူ့လုပ်ငန်းဌာနပိုင်မြေ၊ မြေအမည်ပေါက်- ရန်ကုန်နယ်မြေ (ရန်ကုန်ထောင်ကြီး)၊ မြေအကျယ်အဝန်း (၃၇.၅၄၉)ဧကအနက် (၁၁.၁၄၅)ဧက၏ မြေအတိုင်းအတာ (၅)ဧကအား တစ်နှစ်လျှင် US$364217 (1sqft=1.672$, 1sqm= 18$) နှုန်း၊ တစ်လလျှင် US$30351.45 (1sqft=0.1393$,1sqm=1.5$)နှုန်းဖြင့် ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုးတစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် နှစ်ကြိမ်ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ လုပ်ငန်း ဆောင်ရွက်နိုင်သည့်မြေနေရာဖြစ်ပြီး အဆိုပြု လုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်းနှင့် ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၅၄/၂၀၁၅)၊ ဆုံးဖြတ်ချက် အပိုဒ်(၅၄)အရ Andaman Alliance Healthcare Limited၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး တည်ဆောက်ရေးလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility – CSR) အတွက် အမြတ်ငွေ၏ (၂%) အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ဆောင်ရွက်ရန်၊ IEE အစီရင်ခံစာပေါ် မူတည်၍ လိုအပ်ပါက EIA ဆောင်ရွက်ရန်နှင့် IEE အစီရင်ခံစာအား ရေးဆွဲပြုစု တင်ပြရန်၊ အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဥ်၊ စွန့်ပစ်ပစ္စည်း/ အရည်စီမံခန့်ခွဲမှု အစီအစဥ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဥ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဥ် (Environmental Management Plan-EMP)များ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဥ်းစည်းကမ်းများ နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။**(Green Environmental, Health, Safety & Social Consultancy Co.,Ltd ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) အစီရင်ခံစာ ၃လအတွင်း ရေးဆွဲပြီး ပြန်လည်တင်ပြမည်ဖြစ်ကြောင်း တင်ပြထားပါသည်)** **နောက်ဆက်တွဲ-ခ**

(ဂ) **ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ** လမ်းမတော်မြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ မြေတိုင်း ရပ်ကွက် အမှတ်(၂၀-F)၊ မြေကွက်အမှတ် (၁၀)၊ မြေအမည်ပေါက် - ရန်ကုန်နယ်မြေ (ရန်ကုန်ထောင်ကြီး)၊ မြေကွက်အတိုင်းအတာ (၅ဧက)ပေါ်တွင် အထပ်(၈)ထပ်ပါ နိုင်ငံတကာအဆင့်မီ ကုတင်(၂၅၀)ဆံ့ဆေးရုံတည်ဆောက်ပြီး World Class Multi- Specialty Hospital လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားမှတ်ချက်ပြန်ကြား လာပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ** ကုမ္ပဏီအနေဖြင့် သတ်မှတ်ထားသော နိုင်ငံတကာအဆင့် ဆေးရုံတစ်ရုံ၏ အင်္ဂါရပ်နှင့်ကိုက်ညီပြီး စံချိန်စံညွှန်းနှင့်အညီ လုပ်ဆောင်ရန်၊ လူနာအချို့မှမလှုပ်ရှားနိုင်သဖြင့်မီးဘေးအန္တရာယ် ကြုံတွေ့ရာတွင် အလွယ်တကူ ရွှေ့ပြောင်း ထွက်ပြေးလွတ်မြောက်နိုင်ရန် ထွက်ပေါက် (Exits)များ ထားပေးခြင်း၊ အခြားစီမံချက်များ စီစဥ်ထားရှိရန် (Evacuation plan in case of fire and other emergency situations၊ စုဝေးနေရာ Assembly point သတ်မှတ်ခြင်း)၊ ဆေးကုသမည့်လူနာဦးရေ တိုးလာနိုင်သဖြင့် နောင်အနာဂါတ်တွင် တိုးချဲ့တည် ဆောက်ရန်အတွက် Car parking နှင့် Landscaping ဧရိယာများကို Future planနှင့် ကိုက်ညီစွာထည့်သွင်း၍ ပုံစံရေးဆွဲထားရန်နှင့် သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာဆောင်ရွက် မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါ သည်။**(ကုမ္ပဏီမှ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက် နှင့်အညီဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံကတိပြုချက်တင်ပြထားပါသည်)**

**နောက်ဆက်တွဲ(ဃ)**

(င) **ကျန်းမာရေးဝန်ကြီးဌာနမှ** ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ ဗိုလ်ချုပ် အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ မြေတိုင်း ရပ်ကွက် အမှတ်(၂၀-F)၊ မြေကွက် အမှတ်(၁၀)ရှိ ရန်ကုန်နယ်မြေ (ရန်ကုန်ထောင်ကြီး)အမည်ပေါက် မြေဧရိယာ (၃၆.၈၅၀)ဧက အနက် (၁၀.၄၄၆)ဧကအား ပြည်ထဲရေးဝန်ကြီးဌာန၏ (၉-၁၁-၂၀၁၅) ရက်စွဲပါ အမိန့်ကြော်ငြာစာ (၁၅၃၇/၂၀၁၅)ဖြင့် ကျန်းမာရေးဝန်ကြီးဌာနသို့ လွှဲပြောင်းပေးခဲ့ပါ၍ (၂၅-၁၁-၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဥ်(၂၃/၂၀၁၅)မှသဘောတူကြောင်း၊ ကျန်းမာရေး ဝန်ကြီးဌာနသို့ လွှဲပြောင်းပေးသည့် မြေဧရိယာ (၁၀.၄၄၆)ဧကမှ မြေအတိုင်းအတာ (၄.၃)ဧကအား Andaman Alliance Healthcare Limited သို့ ငှားရမ်းခြင်းအ ပေါ် ကျန်းမာရေးဝန်ကြီးဌာန၏ ဌာနပိုင်မြေအား ငှားရမ်းရေးအတွက် စိစစ်ရေး အဖွဲ့မှ (၁၅-၁၂-၂၀၁၅)ရက်နေ့တွင် နှစ်ဖက် စာချုပ်ဝင်များ အပြီးသတ်ညှိနှိုင်း ဆွေးနွေး၍ (၁၆-၁၂-၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ကျန်းမာရေးဝန်ကြီး ဌာန၏ လုပ်ငန်းညှိနှိုင်းအစည်းအဝေး အမှတ်စဥ် (၂၀/၂၀၁၅)သို့ တင်ပြ၍ ငှားရမ်း နိုင်ရေးအတွက် ဆုံးဖြတ်ခဲ့ပြီး ဖြစ်ကြောင်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ရင်းနှီး မြှုပ်နှံမှုအဆိုပြုလွှာတင်သွင်း နိုင်ရေးအတွက် ငှားရမ်းခြင်းနှင့် လုပ်ငန်းဆိုင်ရာ ကိစ္စရပ်များ ဆောင်ရွက်ခွင့်ပြုပါရန် (၁၇-၁၂-၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ် သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဥ် (၂၆/၂၀၁၅)သို့ တင်ပြ၍ သဘောတူညီကြောင်း ဆုံးဖြတ်ခဲ့ပြီးဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြား လာပါသည်။

**နောက်ဆက်တွဲ(င)**

၁၂။ ငွေကြေး အထောက်အထားအဖြစ် Parkway Healthcare Indo- China Pte. Ltdမှ Annual Report (၂၀၁၄)၊ Macondray Holding Company သည် (UOB) United Overseas Bank Limited ဘဏ်၌ US$ ၃၉၅,၇၂၁ ရှိကြောင်း၊ AMMK Medicare Company Limitedသည် (KBZ) ကမာရွတ်ဘဏ်ခွဲ၌ ၇-၈-၂၀၁၅ ရက်စွဲဖြင့် ကျပ် ၅.၀၀ သန်း၊ Global Star Company Limitedသည်(KBZ) မရမ်းကုန်းဘဏ်ခွဲ၌ ၁၂-၁၀-၂၀၁၅ ရက်စွဲဖြင့် ကျပ်သန်း ၂,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၃။ ဝန်ထမ်းများ၏ လုပ်ခလစာဝင်ငွေ သိန်းနှစ်ဆယ်ကျော်ပါက အခွန်ထမ်းဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အလုပ်သမား သက်သာ ချောင်ချိရေးစီမံချက်၊ မီးဘေးလုံခြုံရေး ဆောင်ရွက်မည့် ဝန်ခံကတိပြုစာ၊ Andaman Alliance Healthcare Limited အနေဖြင့် လုပ်ငန်းလည်ပတ်မှုမှရရှိမည်ဟု ခန့်မှန်းထားသည့် အသားတင်အမြတ်ငွေမှ ၂%ကို ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုလုပ်ငန်းအစီအစဉ်များတွင် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ တွင် ကျန်းမာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့် ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၆။ အဆိုပြုလုပ်ငန်းအား ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄၀/၂၀၁၅ ) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) ဤလုပ်ငန်းသည် နိုင်ငံတကာအဆင့်မီ ကျန်းမာရေးဝန်ဆောင်မှု လုပ်ငန်းဖြစ်သောကြောင့် မြန်မာနိုင်ငံတွင် ဤရင်းနှီးမြှုပ်နှံမှုကို လက်ခံမည်ဆိုပါက အလုပ်အကိုင်အခွင့်အလမ်းရရှိမည့် ဖြစ်သည့်အပြင် ပြည်သူကျန်းမာရေးအတွက် အရည်အသွေးပြည့်ဝစွာဖြင့် ဝန်ဆောင်မှု ပေးနိုင်မည်ဖြစ်ကြောင်း သုံးသပ်ရပါသည်။

(ခ) ဆေးကုသရေးများ ပါဝင်သောကြောင့် လုပ်ငန်းလည်ပတ်ချိန်တွင် ခါတ်ခွဲခန်း၊ အခြားသွေးနှင့်ဆက်စပ်သော အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များအား စနစ်တကျစွန့်ပစ်ခြင်း မပြုပါက အနံ့ဆိုးများထွက်ရှိနိုင်ခြင်း၊ ရောဂါများ ပြန့်ပွားကူးစက်နိုင်ခြင်း ပတ်ဝန်းကျင်ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်၍ ကျန်းမာရေးဝန်ကြီးဌာနနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအတိုင်း တိကျစွာလိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၃ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈/၂၀၁၅) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ

Andaman Alliance Healthcare Limitedသို့ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့စွဲဖြင့် ယာယီခွင့်ပြုမိန့်အမှတ် ၁၀၄၅/၂၀၁၅(ယာယီ)ထုတ်ပေး ထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Yoma Siloam Hospital Pun Hlaing Co., Ltd နိုင်ငံတကာအဆင့်မီ ဆေးရုံနှင့် ရောဂါရှာဖွေစမ်းသပ်ရေးဌာန ပါဝင်သည့် ဆေးဖက်ဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းအား ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးမှ (၂၇-၄-၂၀၁၅) ရက်စွဲဖြင့် ခွင့်ပြုမိန့်အမှတ် (၉၂၃/၂၀၁၅)အား ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Andaman Alliance Healthcare Limitedမှ ကျန်းမာရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ မြေတိုင်းရပ်ကွက် အမှတ်(၂၀$^{F}$)၊ မြေကွက် အမှတ် (၁၀$^{B}$)၊ မြေအတိုင်းအတာ (၄.၃)ဧက ပေါ်တွင် Parkway Yangon Hospital အမည်ဖြင့် ဆေးရုံတည်ဆောက်ပြီး Private Hospital Services လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကျန်းမာရေးဝန်ကြီးဌာနမှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

ကန့်သတ်

၉

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Parkway Health Care Indo-China Pte.Ltd | (၁) Mr. Tan See Leng Singapore PP No. E.3576314E | 16 Siglap plain, Singapore 456005 |
| ၂။ | Parkway Health Care Indo-China Pte.Ltd | (၂) Ms Tan Hui Ann Sherry Singapore PP No. E4511856F | 28 Leonie Hill,#14-28,Singapore 239227 |
| ၃။ | Parkway Health Care Indo-China Pte.Ltd | (3) Mr. Lai KoK Peng Malaysia PP No. A30038099 | 63 Holland Road,#04-04 Aerdure@Holland Park, Singapore 258887 |
| ၄။ | Parkway Health Care Indo-China Pte.Ltd | (4) Mr.Liaw Yit Ming Malaysia PP No. A32825340 | 6 Keng Chin Road,#05-05 Cyan Singapore 258709 |
| ၅။ | AMMK Medicare Company Limited | (5) U Aung Moe Kyaw Myanmar NRC No; 12/Ma Ka Ya (Naing) 106397 | No-18 Aung Mingalar Street, Aung Theikdi Road, (3)Ward, Mayangone T/s Yangon |
| ၆။ | Global Star Company Limited | (6)Thurane Aung @ Christopher Aung Myanmar NRC No;12/ Ka Ma Ya (Naing) 050839 | 105,University Avenue Road, (10)Ward,Kamayut TownShip,Yangon |
| ၇။ | Macondray Holding Pte.Ltd | (7) Mr. Ng How Kiat Charlie Singapore PP No; E 3133254 L | 25 Moonstone Lane #19-03 Singapore 328465 |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ - ၀၉-၂၅၄၂၈၀၂၆၃

၂။ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - မလှမြတ်သူ(Public Relation Manager)

ကန့်သတ်

၄။ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှုလုပ်ငန်း

၅။ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂. ၁၁. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၅(အ)/ ၀၁၂ / ၂၀၁၅ (၃၈၉)

၁။ မြန်မာနိုင်ငံ AMMK Medicare Company Limited မှ ၂၀. ၅%၊ မြန်မာနိုင်ငံ Global Star Company Limited မှ ၁၆%၊ စင်္ကာပူနိုင်ငံ Macondray Holdings Pte. Ltd. မှ ၁၀. ၅% နှင့် စင်္ကာပူနိုင်ငံ Parkway Healthcare Indo - China Pte. Ltd. မှ ၅၂% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Andaman Alliance Healthcare Limited တည်ထောင်ကာ ကျန်းမာရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀-F)၊ မြေကွက်အမှတ်(၁၀)၊ မြေအမျိုးအစား-ပြည်သူ့လုပ်ငန်းဌာနပိုင်မြေ၊ မြေအမည်ပေါက်-ရန်ကုန်နယ်မြေ (ရန်ကုန်ထောင်ကြီး)၊ မြေအကျယ်အဝန်း(၃၇. ၅၄၉)ဧက အနက် (၁၀. ၁၄၅)ဧက၏ မြေအတိုင်းအတာ (၅)ဧက ပေါ်တွင် Parkway Yangon Hospital အမည်ဖြင့် ဆေးရုံတည်ဆောက်ပြီး World Class Multi - Specialty Hospital လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက အောက်ပါအတိုင်း အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်-

(၁) ပထမနှစ် - ပြည်ပဝန်ထမ်း(၂၈)ဦး၊ ပြည်တွင်းဝန်ထမ်း(၄၃၈)ဦး၊ စုစုပေါင်း(၄၆၆)ဦး

(၂) ဒုတိယနှစ်နှင့် တတိယနှစ် - ပြည်ပဝန်ထမ်း(၃၃)ဦး၊ ပြည်တွင်းဝန်ထမ်း(၅၇၇)ဦး၊ စုစုပေါင်း(၆၁၀)ဦး

(၃) စတုတ္ထနှစ်မှ ဆဋ္ဌမနှစ်အထိ - ပြည်ပဝန်ထမ်း(၆၂)ဦး၊ ပြည်တွင်းဝန်ထမ်း(၁၁၄၄)ဦး၊ စုစုပေါင်း(၁၂၀၆)ဦး

(၄) သတ္တမနှစ်မှ နောက်ပိုင်း - ပြည်ပဝန်ထမ်း(၆၇)ဦး၊ ပြည်တွင်းဝန်ထမ်း(၁၂၂၂)ဦး၊ စုစုပေါင်း(၁၂၈၉)ဦး

(၅) တည်ဆောက်ဆဲကာလ(၃)နှစ်အတွင်း လုပ်သားအင်အား(၂၀၀)ဦးဝန်းကျင်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

D/2015/Cabinet/54.(3)

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ကျန်းမာရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀-F)၊ မြေကွက်အမှတ်(၁၀)၊ မြေအမျိုးအစား-ပြည်သူ့လုပ်ငန်းဌာနပိုင်မြေ၊ မြေအမည်ပေါက်-ရန်ကုန်နယ်မြေ (ရန်ကုန်ထောင်ကြီး)၊ မြေအကျယ်အဝန်း(၃၇. ၅၆၉)ဧက အနက် (၁၁. ၁၄၅)ဧက၏ မြေအတိုင်းအတာ(၅)ဧကအား တစ်နှစ်လျှင် US $ 364217 (1sqft=1.672 $, 1sqm=18 $)နှုန်း၊ တစ်လလျှင် US $ 30351.45 (1sqft=0.1393 $, 1sqm=1.5 $)နှုန်းဖြင့် ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုးတစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် နှစ်ကြိမ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၂၇. ၁၁. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅၄/ ၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၄)အရAndaman Alliance Healthcare Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လမ်းမတော်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Andaman Alliance Healthcare Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/54.,(4)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPF-5438
3.12.15

စာအမှတ် ၃(၂)/၁၆(ဃ)(၁)/( ၃၃၈၄ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M4-84
1.12.2015

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂ - ၁၁ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၅(အ) / ၀၁၂ / ၂၀၁၅ ( ၃၉၀ )

၁။ မြန်မာနိုင်ငံ AMMK Medicare Company Limited မှ ၂၁.၅ % ၊ မြန်မာနိုင်ငံ Global Star Company Limited မှ ၁၆ % ၊ စင်္ကာပူနိုင်ငံ Macondray Holdings Pte. Ltd. မှ ၁၀.၅ % နှင့် စင်္ကာပူနိုင်ငံ Parkway Healthcare Indo - China Pte. Ltd. မှ ၅၂ % ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Andaman Alliance Healthcare Limited တည်ထောင်ကာ ကျန်းမာရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး ၊ လမ်းမတော်မြို့နယ်၊ ဗိုလ်ချုပ် အောင်ဆန်းလမ်း နှင့် ပြည်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် ( ၂၀ - F )၊ မြေကွက်အမှတ် ( ၁၀ )၊ မြေအမျိုးအစား - ပြည်သူ့လုပ်ငန်း ဌာနပိုင်မြေ၊ မြေအမည်ပေါက် - ရန်ကုန်နယ်မြေ (ရန်ကုန် ထောင်ကြီး)၊ မြေအကျယ်အဝန်း (၃၇.၅၄၉) ဧကအနက် (၁၁.၁၄၅) ဧက၏ မြေအတိုင်းအတာ (၅) ဧကပေါ်တွင် Parkway Yangon Hospital အမည်ဖြင့် ဆေးရုံတည်ဆောက်ပြီး World Class Multi - Specialty Hospital လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ တည်ဆောက်ရေး လုပ်ငန်းနှင့်ပတ်သက်၍ စိစစ်ရာတွင် မြေသားများ ပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာသည့် အမှုန်အမွှားများ ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း ၊ တည်ဆောက်ရေးလုပ်ငန်းတွင် အသုံးပြုသည့် စက်ပစ္စည်းများ နှင့် ယာဉ်ယန္တရားများ၏ ဆူညံသံများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ လုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဘေးအန္တရာယ်ရှိ စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင်ရှိ ရေထု ၊ လေထု နှင့် မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ပါသည်။ ဆေးရုံလုပ်ငန်းလည်ပတ်ချိန်တွင် ဓါတ်ခွဲခန်း ၊ ခွဲစိတ်ခန်း နှင့် အခြားသွေး နှင့် ဆက်စပ်သော အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ / စွန့်ပစ်အရည် Biomedical Waste များအား စနစ်တကျ စွန့်ပစ်ခြင်း မပြုပါက အနံ့ဆိုးများ ထွက်ရှိနိုင်ခြင်း ၊ ရောဂါများ ပြန့်ပွားကူးစက်နိုင်ခြင်း နှင့် ပတ်ဝန်းကျင် ရှိ မြေထု၊ လေထု၊ရေထုညစ်ညမ်းနိုင်ခြင်း၊ ဓါတ်မှန် နှင့် CT Scan တို့ အသုံးပြုရာမှ ထွက်ပေါ်လာမည့် ဓါတ်ရောင်ခြည်သည် လူကို အန္တရာယ်ဖြစ်စေနိုင်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ် စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Andaman Alliance Healthcare Limited မှ Parkway Yangon Hospital အမည်ဖြင့် ဆေးရုံတည်ဆောက်ပြီး World Class Multi-Specilty Hospital လုပ်ငန်း နှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး တည်ဆောက်ရေး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility - CSR ) အတွက် အမြတ်ငွေ၏ (၂ %) အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination - IEE) ဆောင်ရွက်ရန် ၊ IEE အစီရင်ခံစာပေါ် မူတည်၍ လိုအပ်ပါက EIA ဆောင်ရွက်ရန် နှင့် IEE အစီရင်ခံစာအား ရေးဆွဲပြုစုတင်ပြရန်၊

(ဂ) အဆိုပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/အရည်စီမံခန့်ခွဲမှု အစီအစဉ်များ ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP ) များ ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး / ပြည်နယ် အစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထား ရယူဆောင်ရွက်ရန်။

၂/၇၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

*D:\CD \Andaman Alliance Healthcare Limited(MN).doc2*

